ကုမ္ပဏီအမည် - Sunjin Myanmar Co.,Ltd.
လုပ်ငန်း - ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက် ရရှိသည့် နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာ လက်ခံရရှိခြင်း | ၂၃-၅-၂၀၁၄ | | |
| ၂ | သဘောထားမှတ်ချက် တောင်းခံခြင်း | | | |
| | (က) စီမံကိန်းစိစစ်ရေးနှင့် တိုးတက်မှု အစီရင်ခံရေးဦးစီးဌာန | ၇-၆-၂၀၁၄ | ၁၁-၆-၂၀၁၄ | ၄ ရက် |
| | (ခ) ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ | ၇-၆-၂၀၁၄ | ၁၈-၈-၂၀၁၄ | ၇၂ ရက် |
| | (ဂ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၇-၆-၂၀၁၄ | ၈-၇-၂၀၁၄ | ၃၀ ရက် |
| | (ဃ) မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေး ဝန်ကြီးဌာန | ၇-၆-၂၀၁၄ | ၁၈-၆-၂၀၁၄ | ၁၁ ရက် |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်း အဝေး (၂၃/၂၀၁၄) သို့ တင်ပြခြင်း | ၅-၆-၂၀၁၄ | | |
| ၄ | အဆိုပြုလွှာလက်ခံကြောင်းစာ ပေးပို့ခြင်း | ၉-၆-၂၀၁၄ | | |
| ၅ | ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ ပိုင်မြေဖြစ်ပါသည်။ | | | |
| ၆ | ကုမ္ပဏီမှ လိုအပ်ချက်များဖြည့်စွက်၍ တင်ပြလာခြင်း | ၁၁-၉-၂၀၁၄ | | ကုမ္ပဏီမှ Investment Plan ပြင်ဆင်ပြောင်းလဲ၍ တွက်ချက်မှုများ ကိုက်ညီမှု ရှိအောင် ပြန်လည်ပြင် ဆင်တင်ပြပါသဖြင့် ရက်ပေါင်း ၉၀ ကျော် ရခြင်းဖြစ်ပါသည်။ |
| ၇ | စုစုပေါင်း ကြာမြင့်ရက် (၁၁၀) ရက် | | | |

အကြောင်းအရာ။ ရခိုင်နန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd. (စက်ရုံ-၂) တည်ထောင်၍ ကြက်သားပေါက်များထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း **ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - **Sunjin Myanmar Co.,Ltd. (စက်ရုံ-၂)**<br>- Mr.Lee, Byung Ha (Korea) |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ရခိုင်နန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Sunjin Co.,Ltd. (Korea) ၉၀%<br>- Mr.Lee, Byung Ha (Korea) ၁၀% |
| | လုပ်ငန်းအမျိုးအစား | - ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂။ | တည်နေရာ | - မြေကွက်အမှတ် ၃၀၊ ပြည်ပစက်မှု နယ်မြေ၊ ပဲခူးတိုင်းဒေသကြီး |
| | မြေပိုင်ရှင် | - ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့ |
| | မြေအကျယ်အဝန်း<br>အဆောက်အဦအကျယ်အဝန်း | - ၁.၂၆ ဧက (၅၀၉၉.၀၄၃၆ စတုရန်းမီတာ) |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - ပထမ ၁၀နှစ် တွင် တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၂.၀ နှုန်း<br>- ဒုတိယ ၁၀နှစ် တွင် တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၂.၅ နှုန်း<br>- တတိယ ၁၀နှစ် တွင် တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၃.၀ နှုန်း |
| | မြေငှားသက်တမ်း | - ၅၀ နှစ် နှင့် ၁၀ နှစ် ၂ကြိမ် သက်တမ်းတိုး |
| ၄။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် နှင့် ၁၀ နှစ် ၂ကြိမ် သက်တမ်းတိုး |
| | တည်ဆောက်ရေးကာလ | - ၂ နှစ် |
| ၅။ | စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>ထည့်ဝင်သည့်အမျိုးအစား | - US$ ၃.၁၄၄ သန်း (ချေးငွေ US$၀.၁၅ သန်းပါဝင်ပါ သည်။)<br>- **US $ (သန်း)** |

| | Equity (US$ သန်း) | Loan (US$ သန်း) | စုစုပေါင်း US$ (သန်း) |
|---|---|---|---|
| ငွေသား | ၁.၈၆၃ | ၀.၀၅၀ | ၁.၉၁၃ |
| စက်နှင့် စက်ပစ္စည်း(ပြည်ပ) | ၀.၅၀၉ | | ၀.၅၀၉ |
| အဆောက်အဦ ကုန်ကျစရိတ် (ပြည်တွင်း) | ၀.၄၃၀ | ၀.၁၀၀ | ၀.၅၃၀ |
| Machinery & Office Equipment (ပြည်တွင်း) | ၀.၁၉၂ | | ၀.၁၉၂ |
| စုစုပေါင်း | ၂.၉၉၄ | ၀.၁၅၀ | ၃.၁၄၄ |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား ပြည်တွင်း | - ၂၅ ဦး (ပြည်တွင်း မှ အနိမ့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၁၀၈ ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်းတစ်ဦး၏ လစာမှာ US$ ၃,၀၀၀ ဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့်စနစ် | - ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ |
| ၈။ | ကုမ္ပဏီ၏ ဝင်ငွေ (ဆဌမနှစ်) | - US$ ၄.၈၅၅ သန်း |
| | ကုမ္ပဏီ၏ အသုံးစရိတ် (ဆဌမနှစ်) | - US$ ၄.၇၀၇ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ် (ဆဌမနှစ်) | - US$ ၀.၁၄၈ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် (ဆဌမနှစ်) | |
| | ဝင်ငွေခွန် | - US$ ၀.၀၄၉ သန်း |
| | ကုန်သွယ်လုပ်ငန်းခွန် | - US$ ၀.၂၃၀ သန်း |
| | အရင်းကြေကာလ | - ၁၂ နှစ် |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၇.၀၅ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၁,၃၁၄,၀၀၀ KWH |
| ၁၁။ | ပြည်ပမှ အခွန်အကောက်ကင်းလွတ်ခွင့် တောင်းခံခြင်း | |
| | (က) စက်ပစ္စည်း | - ပူးတွဲ-၁ ဖြင့် တင်ပြထားပါသည်။ |
| | (ခ) ကုန်ကြမ်းပစ္စည်း | - ပူးတွဲ-၂ ဖြင့် တင်ပြထားပါသည်။ |
| ၁၂။ | CSR | - ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာ စောင့်ကြည့်လေ့လာမည့် လုပ်ငန်းများအတွက် ကျန်းမာရေး၊ လူမှုရေး၊ သက်သာချောင်ချိရေး ကိစ္စရပ်များတွင် သုံးစွဲနိုင်ရန် အသားတင်အမြတ်ငွေမှ ၂ % ကို ရန်ပုံငွေ အဖြစ်လျာထားပါကြောင်း တင်ပြထားပါသည်။ |
| ၁၃။ | မီးဘေးစီမံချက် | - မီးဘေးကြိုတင်ကာကွယ်ရေးအတွက် ရေပုံး၊ မီးကဒ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့် ထားရှိပါကြောင်း၊ စက်ရုံရှိ နံရံများတွင် မီးသတ်ဘူးများ ချိတ်ဆွဲထားရှိမည် ဖြစ်ပါကြောင်း၊ မီးဘေးအန္တရာယ်အတွက် စည်းကမ်းချက်များ ချမှတ်ထားရှိပြီး ယင်းတို့ကို ဝန်ထမ်းများ တိကျစွာ လိုက်နာဆောင်ရွက်ရန်လည်း စီမံထားရှိပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ စက်ရုံအတွင်းနှင့် အနီးပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာ တားမြစ်ထားပါကြောင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ်များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။ |

ကုမ္ပဏီအမည် - Sunjin Myanmar Co.,Ltd.
အဖွဲ့အစည်းပုံသဏ္ဍာန် - ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု
လုပ်ငန်းအမျိုးအစား - ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း
တည်နေရာ - မြေကွက်အမှတ် ၃၀၊ ပြည်ပစက်မှု နယ်မြေ၊ ပဲခူးတိုင်းဒေသကြီး
စုစုပေါင်းရင်းနှီးမြှုပ်နှံမှု - အမေရိကန်ဒေါ်လာ ၃.၁၄၄ သန်း
ရောင်းချမည့်စနစ် - ပြည်တွင်း ၁၀၀%
လုပ်ငန်းသက်တမ်း - ၅၀ နှစ်၊ သက်တမ်းတိုး ၁၀ နှစ် နှစ်ကြိမ်
အရင်းကြေကာလ ၁၂နှစ်
IRR - ၁၇.၀၅ %

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြ အပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၆၈၀ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၄၈.၉၂၃ သန်း | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၁၇၅.၆၃၃ သန်း | ကျပ် ၆၃၆.၉၂၅ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | ကျပ် ၇၃၈.၅၅၇ သန်း | ကျပ် ၂၈၁၉.၇၃၉ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၁.၁၂၉ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | ဝင်ငွေခွန်ဥပဒေအတိုင်း ထမ်းဆောင်ပါမည်။ |
| ၈ | CSR (၂%) | | ကျပ် ၃၆.၇၀၄သန်း |
| ၉ | မြေငှားရမ်းနှုန်း | - | ကျပ် ၁၉၂၀ နှုန်း |
| ၁၀ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၂၅ ဦး<br>ပြည်တွင်းလုပ်သား (၂၅) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုး တိုးတက်မှုကို အထောက်အကူပြု စေပါသည်။ |
| | | ကျပ် ၉၆၄.၇၉၃ သန်း | ကျပ် ၅၄၁၅.၆၆၂ သန်း |
| | Cost & Benefit | ၁း၅ | |

ကန့်သတ်

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ရကဂ-၃/န-၁၀၄၃/၂၀၁၄( ၁၅၃ )
ရက်စွဲ၊ ၂၀၁၄ ခုနှစ် စက်တင်ဘာလ ၁၈ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd. (စက်ရုံ-၂) တည်ထောင်၍ ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ ကိုရီးယားနိုင်ငံ Sunjin Co.,Ltd. မှ ၉၀% နှင့် Mr.Lee, Byung Ha မှ ၁၀% ထည့်ဝင်၍ ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Sunjin Myanmar Co.,Ltd. (စက်ရုံ-၂) တည်ထောင်၍ မြေကွက်အမှတ် ၃၀၊ ပြည်ပစက်မှုနယ်မြေ၊ ပဲခူးတိုင်းဒေသကြီးရှိ မြေ ၁.၂၆ ဧက (၅၀၉၉.၀၄၃၆ စတုရန်း မီတာ)တွင် ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြုလွှာတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့် အတူ ပဲခူးတိုင်းဒေသကြီး ဥပဒေချုပ်ရုံး သဘောထားမှတ်ချက်၊ ၎င်းသဘောထားမှတ်ချက်နှင့် အညီ ပြင်ဆင် ထားသည့် မြေပိုင်ရှင် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Sunjin Myanmar Co.,Ltd.တို့ ချုပ်ဆိုမည့် မြေငှားစာချုပ် (မူကြမ်း)၊ မိခင်ကုမ္ပဏီဖြစ်သည့် Sunjin Co.,Ltd.နှင့် Sunjin Myanmar Co.,Ltd. တို့ ချုပ်ဆိုမည့် ချေးငွေစာချုပ်(မူကြမ်း)၊ တည်နေရာပြမြေပုံ၊ ဆောက်လုပ်မည့် စက်ရုံအဆောက်အဦ ဒီဇိုင်းပုံများနှင့် မြန်မာနိုင်ငံတွင် ဖွဲ့စည်းတည်ထောင်မည့် ကုမ္ပဏီ၏ MOA၊ AOA (မူကြမ်း) များကို တင်ပြထား ပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာ မှာ ၅၀၉၉.၀၄၃၆ စတုရန်းမီတာ (၁.၂၆ ဧက) ဖြစ်ပြီး မြေငှားရမ်းခမှာ ပထမ ၁၀နှစ် တွင် တစ်နှစ်တစ်စတုရန်းမီတာလျှင် US$ ၂.၀ နှုန်း၊ ဒုတိယ ၁၀နှစ် တွင် တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၂.၅ နှုန်း နှင့် တတိယ ၁၀နှစ် တွင် တစ်နှစ် တစ်စတုရန်းမီတာလျှင် US$ ၃.၀ နှုန်း တင်ပြထားပါသည်။

၄။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး (၅၀)နှစ် ၁၀ နှစ် ၂ ကြိမ်သက်တမ်းတိုး နှင့် တည်ဆောက်ရေးကာလမှာ ၂ နှစ် ဖြစ်ပါသည်။

၅။ လုပ်ငန်း၏ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု US$ ၃.၁၄၄ သန်း တွင် ချေးငွေ US$ ၀.၁၅ သန်း ပါဝင်ပါသည်။ ချေးငွေအပေါ် အတိုးနှုန်းမှာ ၄% ဖြစ်ပြီး စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပုံစံမှာ တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

| | Equity (US$ သန်း) | Loan (US$ သန်း) | စုစုပေါင်း US$ (သန်း) |
|---|---|---|---|
| ငွေသား | ၁.၈၆၃ | ၀.၀၅၀ | ၁.၉၁၃ |
| စက်နှင့် စက်ပစ္စည်း(ပြည်ပ) | ၀.၅၀၉ | | ၀.၅၀၉ |
| အဆောက်အဦ ကုန်ကျစရိတ် (ပြည်တွင်း) | ၀.၄၃၀ | ၀.၁၀၀ | ၀.၅၃၀ |
| Machinery & Office Equipment (ပြည်တွင်း) | ၀.၁၉၂ | | ၀.၁၉၂ |
| စုစုပေါင်း | ၂.၉၉၄ | ၀.၁၅၀ | ၃.၁၄၄ |

၆။ လုပ်ငန်းဆောင်ရွက်ရန် အတွက် ပြည်တွင်း ဝန်ထမ်း ၂၅ ဦး ခန့်ထားနိုင်မည်ဖြစ်ပြီး အနိမ့်ဆုံး ဝန်ထမ်းတစ်ဦး၏လစာမှာ US$ ၁၀၈ ဖြစ်ပြီး အမြင့်ဆုံးဝန်ထမ်း လစာမှာ US$ ၃၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်လုပ်ရရှိသည့် ကြက်သားပေါက်များအား ပြည်တွင်းတွင် ၁၀၀% ရောင်းချမည်ဖြစ်ပါသည်။ ပုံမှန်နှစ် (၆နှစ်မြောက်) ထုတ်လုပ်မှု နှင့် ရောင်းချမှုဈေးနှုန်းမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| **အမျိုးအမည်** | **အရေအတွက် (head)** | **ဈေးနှုန်း (Kyat/head)** |
|---|---|---|
| DOC Production | ၆,၀၀၀,၀၀၀ | ၇၇၇ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (၆ နှစ်မြောက်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ အောက်ပါ အတိုင်း ဖြစ်ပါသည်-

| | | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄.၈၅၅ |
| (ခ) | အသုံးစရိတ် | ၄.၇၀၇ |
| (ဂ) | အသားတင်အမြတ် | ၀.၁၄၈ |

၉။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ (၆)နှစ်မြောက်တွင် ရရှိမည့် အကျိုး အမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၀.၀၄၉ သန်းနှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၀.၂၃၁ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ ၁၂ နှစ် ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ ၁၇.၀၅% ဖြစ်ပါသည်။ အမေရိကန်ဒေါ်လာ တစ်ဒေါ်လာ လျှင် ၉၆၀ ကျပ် နှုန်းဖြင့်တွက်ချက် ထားပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့** မှ သီးခြားပြည်ပစက်မှု စိမံကိန်းနယ်မြေအတွင်းကျရောက်ခြင်း၊ နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေများ ရရှိခြင်း၊ ဒေသခံလုပ်သားပြည်သူများအတွက် အလုပ်အကိုင် အခွင့်အလမ်းများရရှိနိုင်ခြင်း တို့ကြောင့် အဆိုပြုလုပ်ငန်း စက်ရုံတည်ထောင်ခြင်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့် အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-က**

(ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန မှ အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်ထိခိုက်ပျက်စီးမှု လျော့နည်းသက်သာစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်း အဆင့်ဆင့်တို့ အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု **အနည်းဆုံးဖြစ်စေမည့် နည်းလမ်းအစီအမံများထည့်သွင်းရေးဆွဲဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့ အတွက်** ပတ်ဝန်းကျင်ဆိုင်ရာကနဦးလေ့လာခြင်း (Initial Environmental Examination- IEE) ကို ဆောင်ရွက်ပြီး လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA) ဆောင်ရွက်ရန်၊ ကြက်သားပေါက်လုပ်ငန်း ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် လုပ်ငန်း စတင်တည်ထောင်သည့်အချိန်မှစ၍ လုပ်ငန်းပိတ်သိမ်းသည့် အချိန်အထိ ပတ်ဝန်းကျင်နှင့် သဟဇာတဖြစ်မည့် ဆောင်ရွက်ထားရှိမှုများ၊ လုပ်ငန်းခွင်လုံခြုံမှုရှိစေရေးအတွက် စီမံချက်၊ ဝန်ထမ်းများ **အတွက် အသိပညာပေးလုပ်ငန်းများနှင့် ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်များ၊ စွန့်ပစ်**ပစ္စည်းစီမံခန့်ခွဲမှု၊ လုပ်ငန်းဆောင်ရွက်မှုအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းမှုဆိုင်ရာစီမံထားရှိမှုများ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်၊ စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်နှင့် သက်ဆိုင်ရာ တိုင်းဒေသကြီး/ ပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရမည် ဖြစ်ပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် ပတ်သက်၍ တတိယ အဖွဲ့အစည်းဖြစ်သည့် Green Myanmar Environmental Services Co.,Ltd. သို့ နိုင်ငံတကာစံချိန် စံနှုန်းများနှင့် အညီ Report အား ရေးဆွဲပြုစုလျှက်ရှိပါကြောင်းနှင့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာ ဝန်ကြီးဌာနမှ သဘောထားမှတ်ချက်များ အတိုင်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုတင်ပြထားပါသည်။** **နောက်ဆက်တွဲ-ခ**

(ဂ) **မွေးမြူရေး၊** ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန မှ အဆိုပါ လုပ်ငန်းနှင့်စပ်လျဉ်း၍ တိရစ္ဆာန်ကျန်းမာရေးနှင့် ဖွံ့ဖြိုးရေးဥပဒေနှင့် မွေးမြူရေးနှင့် ကုသရေးဦးစီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများကို လိုက်နာ ဆောင်ရွက်ပါက ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားထားပါသည်။ **ကုမ္ပဏီမှ လိုက်နာဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုချက်ကို တင်ပြထားပါသည်။** **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေးအထောက်အထားအဖြစ် Sunjin Co.,Ltd. သည် ကိုရီးယားနိုင်ငံ Hana Bank တွင် ၃၁-၁-၂၀၁၄ ရက်စွဲဖြင့် ကိုရီးယား Won ၁၀,၃၀၀,၀၀၀ နှင့် အမေရိကန် ဒေါ်လာ ၉,၅၄၄,၁၀၆.၇၅ လက်ကျန်ရှိကြောင်းနှင့် ဒါရိုက်တာ အဖွဲ့ဝင်များ၏ Passport မိတ္တူများကို တင်ပြထားပါသည်။

၁၂။ Sunjin Myanmar Co.,Ltd. မှ ဝန်ထမ်းများ၏ လစာငွေအပေါ် ဝင်ငွေခွန်နှင့် ပတ်သက်၍ ဝန်ခံကတိပြုချက်၊ ဝန်ထမ်းလစာ ကျပ် သိန်း ၂၀ထက် ကျော်လွန်ပါက ဝင်ငွေခွန် ပေးဆောင်သွားမည် ဖြစ်ကြောင်း၊ လျှပ်စစ်ဓာတ်အားသုံးစွဲမှု အစီအစဉ်တင်ပြခြင်း၊ လုပ်ငန်းခွင် သာယာရေး၊ ဝန်ထမ်းသက်သာ ချောင်ချိရေးအတွက် ဆောင်ရွက်ထားရှိမည့် အစီအစဉ်များနှင့် ရပ်ရွာအကျိုးပြု အစီအစဉ် (Corporate Social Responsibility) အဖြစ် နှစ်စဉ်ရရှိသော အမြတ်ငွေမှ ၂% ကိုသုံးစွဲမည် ဖြစ်ကြောင်း တင်ပြထား ပါသည်။

၁၃။ **မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်** နှင့် မီးဘေးကြိုတင်ကာကွယ်ရေးအတွက် ရေပုံး၊ မီးကဒ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့် ထားရှိပါကြောင်း၊ စက်ရုံရှိ နံရံများတွင် မီးသတ်ဘူးများ ချိတ်ဆွဲ ထားရှိမည် ဖြစ်ပါကြောင်း၊ မီးဘေးအန္တရာယ်အတွက် စည်းကမ်းချက်များ ချမှတ်ထားရှိပြီး ယင်းတို့ကို ဝန်ထမ်းများ တိကျစွာ လိုက်နာဆောင်ရွက်ရန် လည်း စီမံထားရှိပါကြောင်း၊ ဝန်ထမ်းများကိုလည်း မီးဘေး အရေးပေါ် ကာကွယ်နိုင်ရန် မီးသတ်နည်းပညာများ လေ့ကျင့် သင်ကြားပေးမည် ဖြစ်ပါကြောင်း၊ စက်ရုံ အတွင်းနှင့် အနီး ပတ်ဝန်းကျင်တွင် ဆေးလိပ်သောက်ခြင်းကို တင်းကြပ်စွာတားမြစ်ထားပါကြောင်း၊ လျှပ်စစ်နှင့် ပတ်သက်သည့် အန္တရာယ် များ မဖြစ်ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါ ကြောင်း တင်ပြထားပါသည်။

၁၄။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ ကို ခံစားခွင့် ပြုပါရန် တင်ပြထားပါသည်။

၁၅။ အဆိုပါလုပ်ငန်းသည် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၄ ခုနှစ် ဩဂုတ်လ ၁၄ ရက်နေ့ တွင် ထုတ်ပြန်ကြေငြာသော အမိန့်ကြော်ငြာစာ အမှတ် ၄၉/၂၀၁၄ အရ ခွင့်မပြုနိုင်သည့် စီးပွားရေး လုပ်ငန်းအမျိုးအစားများစာရင်း၊ နိုင်ငံသားနှင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေး လုပ်ငန်းအမျိုးအစားများစာရင်း၊ သက်ဆိုင်ရာဝန်ကြီးဌာန၏ သဘောထားမှတ်ချက်ဖြင့် နိုင်ငံသားနှင့် ဖက်စပ် စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်း အမျိုးအစားများစာရင်း၊ အခြားကန့်သတ်ချက်ဖြင့် ဖက်စပ်စနစ်ဖြင့်သာ ဆောင်ရွက်ခွင့်ပြုသည့် စီးပွားရေးလုပ်ငန်းအမျိုးအစားများစာရင်း တို့တွင် မပါဝင်သော ကြောင့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ နိုင်ငံခြားသားက ရာနိုင်နှုန်းပြည့် ဆောင်ရွက်နိုင်သော လုပ်ငန်း အမျိုးအစား ဖြစ်ပါသည်။

၁၆။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၄ ခုနှစ်၊ ဇွန်လ ၅ ရက်နေ့တွင် ကျင်းပပြုလုပ်သည့် ၂၃/၂၀၁၄ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

၁၇။ စိစစ်တင်ပြချက်

(က) ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းမှရရှိသည့် အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံမည်ဖြစ်ကြောင်းတင်ပြထားပါသည်။ နိုင်ငံခြားရင်းနှီး မြှုပ်နှံမှုဥပဒေ အခန်း(၁၂)၊ ပုဒ်မ ၂၇၊ ပုဒ်မခွဲ(ခ)တွင် လုပ်ငန်းမှရရှိသည့်အမြတ်ငွေကို ပြန်လည်ရင်းနှီးမြှုပ်နှံရန်အတွက် သီးသန့်ရန်ပုံငွေထား၍ တစ်နှစ်အတွင်း ယင်းလုပ်ငန်း၌ ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် တင်ပြလာပါက လျှောက်ထားနိုင်သည်ဟုဖော်ပြထားပါသည်။ ကုမ္ပဏီမှ အမြတ်ငွေအား ပြန်လည်ရင်းနှီးမြှုပ်နှံမည်ဆိုပါလျှင် ကော်မရှင်သို့ တင်ပြလျှောက်ထား ရမည်ဖြစ်ပါကြောင်း စိစစ်တွေ့ရှိရပါသည်။

(ခ) Sunjin Myanmar Co.,Ltd. စက်ရုံ(၁) သည် ရင်းနှီးမြှုပ်နှံမှုတန်ဖိုး အမေရိကန်ဒေါ်လာ ၇.၀၀၀ သန်း၊ အကွက်အမှတ်(၂၅)၊ ပဲခူးပြည်ပစက်မှုဇုန်နယ်မြေ၊ ပဲခူးတိုင်းဒေသကြီးတွင် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၃ ခုနှစ် စက်တင်ဘာလ ၂၆ ရက်စွဲပါ ခွင့်ပြုမိန့်အမှတ် ဖ၃၀/ ၂၀၁၃ ဖြင့် တိရိစ္ဆာန်အစားအစာနှင့် ဆက်စပ်ပစ္စည်းများ ထုတ်လုပ်ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့် ရရှိထားသည့် ကုမ္ပဏီဖြစ်ပါသည်။ ယခုထပ်မံ၍ ကြက်သားပေါက်များမွေးမြူထုတ်လုပ်ခြင်းလုပ်ငန်း စက်ရုံ-၂ ကို ထပ်မံတင်ပြထားခြင်းဖြစ်ပြီး ရင်းနှီးမြှုပ်နှံသူ မှာ တစ်ဦးတည်းဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ သို့ဖြစ်ပါ၍ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd. (စက်ရုံ-၂) တည်ထောင်၍ ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း အား မြေကွက်အမှတ် ၃၀၊ ပြည်ပစက်မှု နယ်မြေ၊ ပဲခူးတိုင်းဒေသကြီးတွင် ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် သို့ အဆိုပြု တင်ပြလာခြင်းအပေါ် ခွင့်ပြုရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(အောင်နိုင်ဦး၊ အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ


E:\Proposal\Sunjin Myanmar Co.,Ltd\Sunjin - MIC (Memo).doc

ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Sunjin Myanmar Co.,Ltd. | Sunjin Co.,Ltd. Represented by: | |
| | | (၁) Mr. Lee,Byung Ha<br>Manging Director<br>Korea<br>M15418425 | 401-1203 Bangbae I-PARK Apt., Dongkwang-ro 3-18, Seocho-gu, Seoul, Korea |
| | | (၂) Mr. Hwang, Sunho<br>Director<br>Korea<br>M05415742 | 305-506, Eun Seong-ro 2gil 13 Sosa-gu Bucheon-si, Gyeonggido, Korea |
| | | (၃) Mr. Lee Bumkwon<br>Director<br>Korea<br>SM0199116 | Michelan Ahervile, D-dong 1606-ho, Jeongja-dong, Bundang-gu, Seongnam-si, Kyungki-Do, Korea |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ၀၉-၄၉၂၄၃၃၅၇, ၀၉-၄၃၁၇၇၉၆၈

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ -

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး - ဒေါ်တင်အုန်းကြည်၊ ဒေါ်နွယ်နွယ်သောင်း

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်း များ - ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ - -

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ - -

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် - -



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

တိုင်းဒေသကြီးအစိုးရအဖွဲ့

ပဲခူးတိုင်းဒေသကြီး

စာအမှတ်၊ ၇ / ၁ - ၉ / ဦး ၁ ( ၂၈၅၁ )

ရက်စွဲ ၊ ၂၀၁၄ ခုနှစ်၊ ဩဂုတ်လ ၁၈ ရက်

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
နေပြည်တော်

M-ၔ၅၅၆
၂၀/၈/၁၄

အကြောင်းအရာ။ သဘောထားမှတ်ချက် တောင်းခံခြင်းကိစ္စ

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇.၆.၂၀၁၄)ရက်စွဲပါစာအမှတ် ၊ ရကဘ - ၆(စ) / နှ - [illegible] / [illegible] (၅၇၄၂-၅၂)

၁။ ပဲခူးမြို့နယ်၊ ညောင်အင်းကျေးရွာအနီး၊ ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ်(၃၁)၊ မြေဧရိယာ(၁.၂၆)ဧကတွင် ဥဖောက်လုပ်ငန်းစက်ရုံတည်ဆောက်နိုင်ရေး Sunjin Myanmar Co., Ltd ၏ တင်ပြမှုနှင့်ပတ်သက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ မြန်မာနိုင်ငံရင်းနှီး မြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာမှုနှင့် ပတ်သက်၍ အောက်ဖော်ပြပါ အချက်များအပေါ် သဘောထားမှတ်ချက်အား ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းလာပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် နောင်ပြုလုပ်မည့် (သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းကို ထိခိုက်ခြင်း ရှိ/မရှိ၊

(ခ) မြို့နယ်ဒေသ အလုပ်အကိုင်၊ အခွင့်အလမ်းနှင့် ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူ ဖြစ်/မဖြစ်၊

(ဂ) ဖော်ပြပါမြေနေရာအား စက်ရုံအတွက် သုံးစွဲခြင်းအပေါ် ဒေသခံများက လူမှုရေး၊ စီးပွားရေး၊ သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှုတို့အရ လက်ခံနိုင်ခြင်း ရှိ/ မရှိ၊

(ဃ) တိုင်းဒေသကြီးအစိုးရအဖွဲ့၏ အကြံပြုချက်၊

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ တောင်းခံထားသည့်အချက်များအပေါ် တိုင်းဒေသကြီးအစိုးရအဖွဲ့၏ သဘောထားအား အောက်ပါအတိုင်း ပြန်ကြားတင်ပြအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှု ပြုလုပ်မည့်နေရာသည် လက်ရှိမြို့ပြစီမံကိန်းနယ်မြေများ၏ ပြင်ပ တွင် တည်ရှိပြီး၊ သီးခြားပြည်ပစက်မှုစီမံကိန်းနယ်မြေအတွင်း ကျရောက်သဖြင့် နောင်ပြုလုပ်မည့်(သို့မဟုတ်) လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်ခြင်းမရှိပါကြောင်း၊

(ခ) အဆိုပါစက်ရုံတည်ထောင်ခြင်းဖြင့် ပဲခူးမြို့ရှိ ဒေသခံပြည်သူလူထုများအတွက် အလုပ်အကိုင် အခွင့်အလမ်း ရရှိနိုင်သည့်အတွက် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ကို အထောက်အကူ ဖြစ်စေနိုင်ပါကြောင်း၊

(ဂ) အဆိုပါစက်ရုံတည်ထောင်ခြင်းဖြင့် ဒေသခံပြည်သူများ၏ လူမှုရေး၊စီးပွားရေးကို မထိခိုက်သည့်အပြင်၊ အလုပ်အကိုင်များပါရရှိနိုင်ပြီး ပတ်ဝန်းကျင် ထိန်းသိမ်းမှုကိုလည်း ထိခိုက်မှုမရှိပါကြောင်း၊

(ဃ) လက်ရှိမြို့ပြစီမံကိန်း နယ်မြေများ၏ ပြင်ပတွင်တည်ရှိပြီး၊ သီးခြားပြည်ပစက်မှုစီမံကိန်းနယ်မြေအတွင်းကျရောက်သဖြင့် နောင်ပြုလုပ်မည့်(သို့မဟုတ်)လက်ရှိမြို့ပြစီမံကိန်းအား ထိခိုက်နိုင်ခြင်းမရှိသည့်အပြင် စက်ရုံတည်ထောင်ပါက ဒေသခံပြည်သူများ၏ အလုပ်အကိုင်အခွင့်အလမ်းများ တိုးပွားရရှိလာနိုင်မည်ဖြစ်ပြီး၊ တိုင်းဒေသကြီး၏ စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကို တစ်ဘက်တစ်လမ်းမှ အထောက်အကူဖြစ်စေနိုင်မည်ဖြစ်ပါကြောင်း၊

၃။ သို့ဖြစ်ပါ၍ နိုင်ငံတော်အတွက် နိုင်ငံခြားဝင်ငွေများရရှိခြင်း၊ ဒေသခံလုပ်သားပြည်သူများအတွက် အလုပ်အကိုင် အခွင့်အလမ်းများရရှိနိုင်ခြင်းတို့ကြောင့် အဆိုပါစက်ရုံတည်ထောင်ခြင်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ လိုက်နာဆောင်ရွက်မည်ဆိုပါက ကန့်ကွက်ရန်မရှိပါကြောင်း ထောက်ခံတင်ပြအပ်ပါသည်။

(ဉာဏ်ဝင်း)
ဝန်ကြီးချုပ်

မိတ္တူ

Sunjin Myanmar Co., Ltd
မျှောစာတွဲ
လက်ခံစာတွဲ



ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
**ပြည်ထောင်စုဝန်ကြီးရုံး**

M44543
16.7.14

**စာအမှတ်** ၂/၂၂၀ (ခ) (၆) / (၃၀၄၅ / ၂၀၁၄)
**ရက်စွဲ** ၂၀၁၄ ခုနှစ်၊ ဇူလိုင်လ ၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်တင်ပြခြင်း</u>

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၇-၆-၂၀၁၄ ရက်စွဲပါစာအမှတ်- ရက - ၆ (ခ) / န - ၁၀၄၃ / ၂၀၁၄ (၅၇၄၂-ည)

၁။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကိုရီးယားနိုင်ငံ Sujin Co., Ltd. မှ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co., Ltd. တည်ထောင်၍ ပဲခူးတိုင်းဒေသကြီး၊ ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ် (၃၀)ရှိ (၁.၂၆) ဧက (၅၀၉၉.၀၄၃၆) စတုရန်းမီတာကို ငှားရမ်းကာ ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း (စက်ရုံ-၂) ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာသဘောထားမှတ်ချက်ကို ပြန်ကြားအပ်ပါသည်။

၂။ ပူးတွဲပေးပို့လာသည့်အဆိုပြုလွှာတွင် တည်ဆောက်မည့်ကာလမှာ (၂)နှစ်ဖြစ်၍ ရင်းနှီးမြှုပ်နှံမည့်ကာလမှာ (၅၀) နှစ်ဖြစ်ပြီး (၁၀) နှစ်(၂) ကြိမ်သက်တမ်းတိုး၍ ဆက်လက်ဆောင်ရွက်သွားမည်ဖြစ်ပါကြောင်း၊ ကြက်သားပေါက်များထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းကို ဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ ပထမနှစ်တွင် ကြက်သားပေါက်ကောင်ရေ သိန်း (၃၀) စတင်ထုတ်လုပ်ရောင်းချမည်ဖြစ်ပြီး စတုတ္ထနှစ်မှစ၍ တိုးချဲ့ထုတ်လုပ်ဖြန့်ဖြူးဆောင်ရွက်မည်ဖြစ်ပါကြောင်း ဖော်ပြပါရှိပါသည်။ ထို့အပြင် အသုံးပြုမည့်ကုန်ကြမ်းပစ္စည်းစာရင်း၊ စက်ပစ္စည်းစာရင်း၊ မီးဘေးကြိုတင်ကာကွယ်ရေးအစီအမံများ၊ ဝန်ထမ်းများသက်သာချောင်ချိရေးအစီအမံများ၊ ကောင်းမွန်သည့် ထုတ်လုပ်မှုနည်းစနစ်များ ဆောင်ရွက်မည်ဖြစ်ပါကြောင်း ယေဘုယျဖော်ပြထားသည်ကို စိစစ်တွေ့ရှိရပါသည်။

၃။ ကြက်သားပေါက်များထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အသုံးပြုသည့် ကုန်ကြမ်းပစ္စည်းများနှင့် နည်းပညာပေါ်မူတည်၍ ထွက်ရှိလာမည့် စွန့်ပစ်ရေ

များ၊ စွန့်ပစ်ပစ္စည်းအစိုင်အခဲများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုဖြစ်ပေါ်နိုင်ခြင်း၊ စွန့်ပစ်ရေများမှ ထွက်ရှိလာနိုင်သော အနည်အနှစ်များ၊ အနံ့များကြောင့် မြေထု၊ ရေထုညစ်ညမ်းမှု ဖြစ်ပေါ်စေနိုင်သည့်အပြင် ဆူညံသံများကြောင့်လည်း ပတ်ဝန်းကျင်အား အနှောင့်အယှက်ဖြစ်ပေါ်စေနိုင်ပါသည်။ ထို့အပြင် ကြက်သားပေါက်ထုတ်လုပ်ခြင်းလုပ်ငန်းမှ ထွက်ရှိမည့် အညစ်အကြေးများ၊ အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရှိ ပြည်သူများအား ကျန်းမာရေးထိခိုက်နိုင်ခြင်း၊ ကြက်ငှက်တုပ်ကွေးရောဂါစသည့် ကျန်းမာရေးဆိုင်ရာ ပြဿနာများ ဖြစ်ပေါ်စေနိုင်ပြီး လူတို့၏ အသက်အန္တရာယ်ကို ထိခိုက်စေနိုင်ပါသည်။

၄။ သို့ဖြစ်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ကိုရီးယားနိုင်ငံ Sujin Co., Ltd. မှ ရာနှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co., Ltd. တည်ထောင်၍ ပဲခူးတိုင်းဒေသကြီး၊ ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ် (၃၀)ရှိ (၁.၂၆) ဧက (၅၀၉၉.၀၄၃၆) စတုရန်းမီတာကို ငှားရမ်းကာ ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း (စက်ရုံ-၂) ဆောင်ရွက်ခွင့်ပြုပါရန်ကိစ္စနှင့်ပတ်သက်၍ အောက်ပါအချက်များကို ထည့်သွင်းလိုက်နာဆောင်ရွက်ရန်လိုအပ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် ထိခိုက်ပျက်စီးမှု လျော့နည်းသက်သာစေရန်အတွက် လုပ်ငန်းစီမံကိန်းရေးဆွဲချမှတ်ခြင်း၊ လုပ်ငန်းလည်ပတ်ခြင်းအဆင့်ဆင့် တို့အတွက် စီမံကိန်းဆိုင်ရာအချက်အလက်များ ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းလမ်းအစီအမံများ ထည့်သွင်းရေးဆွဲဆောင်ရွက်ရန်၊

(ခ) အဆိုပြုလုပ်ငန်းကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှုမရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ပတ်ဝန်းကျင်ဆိုင်ရာ ကနဦးလေ့လာခြင်း (Initial Environmental Examination-IEE) ကို ဆောင်ရွက်ပြီး လိုအပ်ပါက ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်း (Environmental Impact Assessment-EIA ) ဆောင်ရွက်ရန်၊

(ဂ) ကြက်သားပေါက်လုပ်ငန်း ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်းဆောင်ရွက်ရာတွင်လုပ်ငန်း စတင်တည်ထောင်သည့်အချိန်မှစ၍ လုပ်ငန်းပိတ်သိမ်းသည့်အချိန်အထိ ပတ်ဝန်းကျင်နှင့်သဟဇာတဖြစ်မည့် ဆောင်ရွက်ထားရှိမှုများ၊ လုပ်ငန်းခွင်လုံခြုံမှုရှိစေရေးအတွက် စီမံချက်၊ ဝန်ထမ်းများအတွက် အသိ ပညာပေးလုပ်ငန်းများနှင့် ကျန်းမာရေးစောင့်ရှောက်မှု အစီအစဉ်များ၊

စွန့်ပစ်ပစ္စည်း စီမံခန့်ခွဲမှု၊ လုပ်ငန်းဆောင်ရွက်မှုအတွက် ပတ်ဝန်းကျင်ထိန်းသိမ်းမှုဆိုင်ရာ စီမံထားရှိမှုများ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီး/ ပြည်နယ်အစိုးရအဖွဲ့နှင့် ဒေသခံပြည်သူများ၏ ဆန္ဒ နှင့် သဘောထားမှတ်ချက် ရယူဆောင်ရွက်ရန်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုး ညွန့် ၊ ရုံး အ ဖွဲ့ မှူး )

မိတ္တူ - ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
- ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန



M-4767
1916

**ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ**
**မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန**
**ပြည်ထောင်စုဝန်ကြီးရုံး**

စာအမှတ်၊၁/၂၀၀(ည)/နပတ/၃၀၁၀/ ၁၇၆၂
ရက်စွဲ၊၂၀၁၄ခုနှစ်၊ဖွေနိုလ ၁၈ ရက်

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပေးပို့ခြင်း**

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၇-၆-၂၀၁၄)ရက်စွဲပါစာအမှတ်၊ ရက-၆(ခ)/ န-၁၀၄၃/ ၂၀၁၄ (၅၇၄၂-၄)

၁။ ကိုရီးယားနိုင်ငံ Sunjin Myanmar Co.,Ltd မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Sunjin Myanmar Co.,Ltd တည်ထောင်၍ ပဲခူးတိုင်းဒေသကြီး၊ ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ်(၃၀)ရှိ ၁.၂၆ ဧက (၅၀၉၉.၀၄၃၆ စတုရန်းမီတာ)ကို ငှားရမ်းကာ ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း (စက်ရုံ-၂) ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုနှင့် ပတ်သက်၍ မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန၏ သဘောထားမှတ်ချက်အား ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် အကြောင်းကြားထားပါသည်။

၂။ Sunjin Myanmar Co.,Ltd မှ လုပ်ငန်းအဆိုပြုချက်နှင့်စပ်လျဉ်း၍ အောက်ပါအတိုင်း တင်ပြအပ်ပါသည်-

| | | |
|---|---|---|
| (က) အဆိုပြုသည့် ကုမ္ပဏီ | - | Sunjin Myanmar Co.,Ltd |
| (ခ) ဆောင်ရွက်မည့်လုပ်ငန်း | - | ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း (စက်ရုံ-၂) |
| (ဂ) လုပ်ငန်းတည်နေရာ | - | ပဲခူးတိုင်းဒေသကြီး၊ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ်(၃၀)ရှိ ၁.၂၆ဧက (၅၀၉၉.၀၄၃၆ စတုရန်းမီတာ) |
| (ဃ) ရင်းနှီးမြှုပ်နှံမှုပမာဏ | - | အမေရိကန်ဒေါ်လာ ( ၇ သန်း) |
| (င) ရင်းနှီးမြှုပ်နှံမှုကာလ | - | (၆) နှစ် |
| (စ) အဆောက်အဦ ဆောက်လုပ်မည့်ကာလ | - | (၂) နှစ် |
| (ဆ) အရင်းကျေကာလ | - | (၈) နှစ် |
| (ဇ) မြေငှားရမ်းခနှုန်း | - | ပထမ (၁၀) နှစ် တစ်စတုရန်းမီတာ ( ၂.၀ US$ ) |

- ဒုတိယ (၁၀) နှစ် တစ်စတုရန်းမီတာ ( ၂.၅ US$ )
  တတိယ (၁၀) နှစ် တစ်စတုရန်းမီတာ (၃.၀ US$ )

(ဈ) ဝန်ထမ်းအင်အား - ပြည်တွင်း (၉၆) ဦး

၃။ ကုမ္ပဏီမှ ပဲခူးတိုင်းဒေသကြီး၊ ပြည်ပစက်မှုနယ်မြေ၊ မြေကွက်အမှတ် (၃၀) ရှိ ၁.၂၆ဧက (၅၀၉၉.၀၄၃၆ စတုရန်းမီတာ) ငှားရမ်းပြီးစက်ရုံ ဆောက်လုပ်မည့်မြေနေရာသည် ပဲခူးတိုင်းဒေသကြီး၊ အစိုးရအဖွဲ့ပိုင်မြေနေရာဖြစ်သဖြင့် ပဲခူးတိုင်းဒေသကြီးအစိုးရအဖွဲ့နှင့် Sunjin Myanmar Co.,Ltd တို့ မြေငှားရမ်းခြင်း သဘောတူစာချုပ် ချုပ်ဆိုနိုင်ရေးအတွက် စာချုပ်မူကြမ်းအား ပူးတွဲတင်ပြထားပါသည်။ အဆိုပါစာချုပ်မူကြမ်းအပေါ် ကုမ္ပဏီမှစက်ရုံတည်ဆောက်မည့် မြေနေရာတွင် ပဲခူးတိုင်းဒေသကြီး၊ ဥပဒေချုပ်ရုံးမှ ပြန်ကြားလာသည့် သဘောထားမှတ်ချက်အား ပူးတွဲတင်ပြထားပါသည်။

၄။ ကုမ္ပဏီသည် အဆိုပြုလုပ်ငန်းကို ရင်းနှီးမြှုပ်နှံမှုပမာဏ အမေရိကန်ဒေါ်လာ (၇) သန်း ထည့်ဝင်ဆောင်ရွက်မည်ဖြစ်ပြီး စက်ရုံမှထွက်ရှိသည့် ကုန်ချောများကို ပြည်တွင်း၌ (၁၀၀%) ရောင်းချမည်ဖြစ်ပါသည်။

၅။ Sunjin Myanmar Co.,Ltd ၏ ငွေကြေးခိုင်မာမှုအထောက်အထား၊ စက်ရုံတည်နေရာပြမြေပုံနှင့် မီးဘေးအန္တရာယ်ကာကွယ်ရေးအစီအစဉ်(Fire Prevention Plan) တို့အား တင်ပြအပ်ပါသည်။

၆။ အဆိုပြုတည်ဆောက်မည့်မြေနေရာမှာ ပြည်ပစက်မှုနယ်မြေဖြစ်၍ စက်ရုံဆောက်လုပ်ရန် သင့်တော်မှုရှိပြီး ပတ်ဝန်းကျင် ညစ်ညမ်းမှုမရှိစေရန် Electricity and Water Requirement အစီအစဉ်ကို ထည့်သွင်းဆောင်ရွက်မည်ဟု ဖော်ပြပါရှိပါသည်။

၇။ Sunjin Myanmar Co.,Ltd ၏ ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း (စက်ရုံ-၂) ဆောင်ရွက်ခြင်းဖြင့် အောက်ပါအကျိုးကျေးဇူးများရရှိမည်ဖြစ်ပါသည်-

(က) ဒေသဖွံ့ဖြိုးရေးနှင့် ဒေသခံပြည်သူများအတွက် အလုပ်အကိုင်အခွင့်အလမ်းများ ရရှိမည်ဖြစ်ပြီး ခေတ်မီနည်းပညာများ တိုးပွားရရှိစေမည်ဖြစ်ပါသည်။

(ခ) ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း (စက်ရုံ-၂) ဆောင်ရွက်ခြင်းဖြင့် ပဲခူးတိုင်းဒေသကြီးအတွင်းတွင် မွေးမြူရေးနှင့် ရေလုပ်ငန်းများကို အထောက်အကူပြုနိုင်မည်ဖြစ်ပါသည်။

(ဂ) နိုင်ငံတော်အနေဖြင့် မြေငှားရမ်းခ ရရှိခြင်းဖြင့် နိုင်ငံတော်အတွက် ဝင်ငွေရရှိနိုင်မည်ဖြစ်ပါသည်။

၈။ သို့ဖြစ်ပါ၍ Sunjin Myanmar Co.,Ltd သည် ကြက်သားပေါက်များ ထုတ်လုပ်ခြင်းနှင့် ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းနှင့်စပ်လျဉ်း၍ တိရစ္ဆာန်ကျန်းမာရေးနှင့်ဖွံ့ဖြိုးရေးဥပဒေနှင့် မွေးမြူရေးနှင့်ကုသရေးဦးစီးဌာနမှ ချမှတ်ထားသော လုပ်ထုံးလုပ်နည်းများကို လိုက်နာဆောင်ရွက်ပါက အဆိုပြုချက်အား မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာနမှ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက်ပြန်ကြားအပ်ပါသည်။

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
ဒေါက်တာခင်ဇော်၊ ညွှန်ကြားရေးမှူးချုပ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မိတ္တူ-

(၁) ရုံးအဖွဲ့မှူး၊ မွေးမြူရေး၊ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးရေးဝန်ကြီးဌာန

(၂) ညွှန်ကြားရေးမှူးချုပ်၊ မွေးမြူရေးနှင့်ကုသရေးဦးစီးဌာန

(၃) Sunjin Myanmar Co.,Ltd

(၄) ရုံးလက်ခံ

(၅) မျှော